

Form (5-A)

E000044

# THE REPUBLIC OF THE UNION OF MYANMAR

## Myanmar Investment Commission

## ENDORSEMENT

Endorsement No. 149/2019 Dated 30 May 2019

This endorsement is issued by the Myanmar Investment Commission according to the section 25 (d) of the Myanmar Investment Law–

(1) Name of Investor U PAING THA HTOO

(2) Citizenship MYANMAR

(3) Residence Address NO.35/B, SEIN LEI YEIK THAR STREET, TAKKATHO YEIKMON HOUSING COMPLEX, BAHAN TOWNSHIP, YANGON

(4) Name and Address of Principal Organization -

(5) Place of Incorporation -

(6) Type of business EDUCATION SERVICES

(7) Place(s) of investment Project MYAY TAING BLOCK NO. 35 (B), PLOT NO.17(A,B,C), 18 (A,B), UNIVERSITY AVENUE PART (2), BAHAN TOWNSHIP, YANGON REGION AND MYAY TAING BLOCK NO. 35 (B), PLOT NO. (4/2 B, 4 C4, 4C/1A), UNIVERSITY AVENUE ROAD, BAHAN TOWNSHIP, YANGON REGION

(8) Amount of Foreign Capital -

(9) Period for Foreign Capital to be brought in -

(10) Total Amount of Capital (Kyat) Kyat 1,289.446 MILLION

(11) Construction/ Preparation Period -

(12) Validity of Endorsement -

(13) Form of Investment WHOLLY MYANMAR OWNED

(14) Name of Company Incorporated in Myanmar NOVELTY SERVICE COMPANY LIMITED



(Thaung Tun)
Chairman







# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် ၁၄၉/၂၀၁၉ ၂၀၁၉ ခုနှစ်၊ မေ လ 30 ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅(ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူအမည် ဦးပိုင်သာထူး

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၃၅/ဘီ၊ စိမ်းလဲ့ရိပ်သာလမ်း၊ တက္ကသိုလ်ရိပ်မွန်အိမ်ရာ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ -

(၅) ဖွဲ့စည်းရာအရပ် -

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား ပညာရေးဝန်ဆောင်မှုလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေတိုင်းရပ်ကွက်အမှတ်-၃၅(ဘီ)၊ မြေကွက်အမှတ်-၁၇ (A၊ B၊ C)၊ ၁၈ (A၊ B)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း (၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် မြေတိုင်းရပ်ကွက်အမှတ်-(၃၅-ဘီ)၊ မြေကွက်အမှတ်-(၄/၂ ဘီ၊ ၄ စီ၄ ၊ ၄ စီ/ ၁အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ -

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ -

(၁၀) စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၁,၂၈၉.၄၄၆ သန်း (ကျပ် တစ်ထောင်နှစ်ရာရှစ်ဆယ့်ကိုးသန်းနှင့် လေးသိန်းလေးသောင်းခြောက်ထောင်ခန့်)

(၁၁) တည်ဆောက်မှု/ပြင်ဆင်မှုကာလ -

(၁၂) အတည်ပြုမိန့် သက်တမ်း -

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် ကုမ္ပဏီအမည်
Novelty Service Company Limited (ဆန်းသစ်ဝန်ဆောင်မှုလုပ်ငန်းကုမ္ပဏီလီမိတက်)

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့



စာအမှတ်၊ မရက-၅(အ)/ အ-၀၃၂/၂၀၁၉ (၂၈၉ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် မေ လ 30 ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) ၏ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီ လ ၁၉ ရက်စွဲပါ တင်ပြစာ

၁။ Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) မှ မြေတိုင်းရပ်ကွက် အမှတ်-၃၅ (ဘီ)၊ မြေကွက်အမှတ်-၁၇ (A၊ B၊ C)၊ ၁၈ (A၊ B)၊ တက္ကသိုလ်ရိပ်မွန်အပိုင်း (၂)၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးနှင့် မြေတိုင်းရပ်ကွက်အမှတ်-(၃၅-ဘီ)၊ မြေကွက်အမှတ်-(၄/၂ ဘီ၊ ၄ စီ၄ ၊ ၄ စီ/ ၁-အေ)၊ တက္ကသိုလ်ရိပ်သာလမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအား ၂၀၁၉ ခုနှစ် မေ လ ၂၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈/၂၀၁၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကို ကျင့်သုံးလျက် Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) အား ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၁၄၉/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈) ပုဒ်မ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ ဝန်ဆောင်မှုရည်မှန်းချက်များကို အကောင်းဆုံးရည်မှန်းချက်များအဖြစ် အကောင်အထည်ဖော်ရမည်။

**ကန့်သတ်**

(ဂ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့်ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် သက်ဆိုင်ရာဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ ဆောင်ရွက်ရမည်။

(င) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(စ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုလုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများ၊ သဲအိတ်များကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ် ရေးလုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများပေးခြင်းနှင့် မီးသတ်အရာရှိတစ်ဦး ခန့်အပ်ခြင်းတို့ကို ဆောင်ရွက်ရမည်။

(ဆ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(ဇ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၆ အရ အတည်ပြုမိန့် သို့မဟုတ် သက်သာခွင့်

ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဈ) Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ် တောင်းခံသည့် ပုံစံဖြင့်တင်ပြရမည်။

၃။ Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၆၅(ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီ အား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)

ဥက္ကဋ္ဌ

Novelty Service Co., Ltd. (ဆန်းသစ်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်)

ဖြန့်ဝေခြင်း

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ရန်ကုန်မြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အခြေခံပညာဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန